ရက်စွဲ။ ၄.၉.၂၀၁၉

Mingalar Hong Sheng Trading Co., Ltd. နှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှု မှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | စစ်ကိုင်တိုင်းဒေသကြီးဦးစီးမှူးရုံးမှ အဆိုပြုလွှာ လွှဲပြောင်းပေးပို့ခြင်း | - | ၁၃-၆-၂၀၁၉ | |
| ၂။ | ကုမ္ပဏီမှအဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၂၄-၆-၂၀၁၉ | - | - |
| ၃။ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း | ၄-၇-၂၀၁၉ | - | - |
| ၄။ | အဆိုပြုချက်ပြန်လည်တင်ပြလာခြင်း | - | ၂၀-၇-၂၀၁၉ | - |
| ၅။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၉-၇-၂၀၁၉ (၂၅/၂၀၁၉) | - | - |
| ၆။ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၅-၈-၂၀၁၉ | - | - |
| ၇။ | လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားတောင်းခံခြင်း | ၉-၈-၂၀၁၉ | ၂၈-၈-၂၀၁၉ | ၁၉ ရက် |
| ၈။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှလိုအပ်ချက်များကိုပြန်လည်ပေးပို့ခြင်း | - | ၃-၉-၂၀၁၉ | - |
| ၉။ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၅/၂၀၁၉ (၁၄-၉-၂၀၁၉) | - | - |
| | စုစုပေါင်းကြာမြင့်ရက် | ၃၉ ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Mingalar Hong Sheng Trading Co., Ltd.

လုပ်ငန်းအမျိုးအစား ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း

PAT အကြိမ်/ရက်စွဲ ၂၅/၂၀၁၉ (၂၉-၇-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|
| ၁။ | လုပ်ငန်းအမျိုးအစား ပြင်ဆင်ဖော်ပြပေးရန်။ | ပြီး | |
| ၂။ | ကုန်ကြမ်းဝယ်ယူမှု အစီအစဉ်အား ဖော်ပြပေးရန်။ | ပြီး | |
| ၃။ | အသုံးပြုမည့် ဓာတုပစ္စည်းအား ဖော်ပြပေးရန်။ | ပြီး | |
| ၄။ | Layout Plan အား ပြန်လည်ပြင်ဆင် တင်ပြရန်။ | ပြီး | |
| ၅။ | စက်ရုံဒီဇိုင်းနှင့် ပုံစံဇယားများအား ပြန်လည်စိစစ် တင်ပြပေးရန်။ | ပြီး | |

အကြောင်းအရာ။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Mingalar Hong Sheng Trading Company Limited တည်ထောင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Mingalar Hong Sheng Trading Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးဝမ်လီချင်း (ခ) ဦးမောင်စိန် |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | - ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း |
| ၄။ | တည်နေရာ | - မြေကွက်အမှတ် ၄၆/၄၇၊ ကွင်းအမှတ် ၃၁၃-ခ၊ ဘုရားလေးကွင်း၊ ဖန်းခါး ကျောင်းကျေးရွာ အုပ်စု၊ မုံရွာမြို့နယ်၊ မုံရွာခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီး |
| ၅။ | မြေပိုင်ရှင် | - ဦးဝင်းမြင့် |
| ၆။ | မြေအကျယ်အဝန်း | - ၄.၉၂ ဧက |
| ၇။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် ကျပ်သိန်း ၃၆၀.၀၀၀ |
| ၈။ | မြေအသုံးပြုခွင့်သက်တမ်း | - ၃၀ နှစ် |
| ၉။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၁၀။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | -ကျပ် ၆၅၄.၈၄၈ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | **စုစုပေါင်း (ကျပ်/သန်း)** |
| | ငွေသား | ၁၀၄.၂၂၇ |
| | စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၄၅၁.၂၂၁ |
| | မြေ/အဆောက်အအုံတန်ဖိုး | ၉၉.၄၀၀ |
| | **စုစုပေါင်း** | **၆၅၄.၈၄၈** |
| ၁၁။ | ရောင်းချမည့်နည်းစနစ် | -ပြည်တွင်း ၁၀၀% |

| | | |
|---|---|---|
| ၁၂။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | အမျိုးအစား / ထုတ်လုပ်မှု အရေအတွက် (ဂါလံ) / ဈေးနှုန်း (ကျပ်/ဂါလံ) / ရရှိမည့်ဝင်ငွေ (ကျပ်/သန်း)<br>ဒီဇယ် / ၃,၄၁၂,၅၀၀.၀၀ / ၃,၅၀၀ / ၁၁,၉၄၃.၇၅<br>ဓာတ်ဆီ / ၁,၁၃၇,၅၀၀.၀၀ / ၃,၅၀၀ / ၃,၉၈၁.၂၅ |
| ၁၃။ | ဝန်ထမ်းခန့်ထားမှု | / ပြည်တွင်း / ပြည်ပ<br>ဦးရေ / ၂၄ ဦး / ၄ ဦး<br>အမြင့်ဆုံးလစာ / ကျပ် ၇၅၀,၀၀၀ / ကျပ် ၂,၀၀၀,၀၀၀<br>အနိမ့်ဆုံးလစာ / ကျပ် ၁၈၀,၀၀၀ / ကျပ် ၁,၅၀၀,၀၀၀ |
| ၁၄။ | CSR | -နှစ်စဉ်အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | အခြားတင်ပြချက်များ | - ကုန်ကြမ်းပစ္စည်း (ရေနံစိမ်း) များကို တစ်ရက်လျှင် ၁၅,၀၀၀ ဂါလံ ဝယ်ယူမည်ဖြစ်ပြီး ၃၃,၀၀၀ ဂါလံဆံ့ ဆီလှောင် ကန် အကြီး ၂ လုံး၊ ၁၁,၀၀၀ ဂဂါလံဆံ့ ဆီသိုလှောင်ကန်အသေး ၁ လုံး၊ ၄,၅၀၀ ဂါလံဆံ့ Horizontal Device Tank ၂ လုံးတို့ကို ၅ ပေအကွာတွင်ထား၍ သိုလှောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကုန်ချောပစ္စည်း (ဓာတ်ဆီ၊ ဒီဇယ်ဆီ)များကို တစ်ရက်လျှင် ၁၂,၅၀၀ ဂါလံ ထုတ်လုပ်သွားမည်ဖြစ်ပြီး ချက်လုပ်ပြီးစီးသည့် ဒီဇယ်ဆီကို ၃၃,၀၀၀ ဂါလံဆံ့ ဆီသိုလှောင် ကန် ၂လုံး၊ ဓာတ်ဆီကို ၁၁,၀၀၀ ဂါလံဆံ့ ဆီသိုလှောင်ကန် ၂ လုံး နှင့် ရေနံချေး ၄,၅၀၀ ဂါလံဆံ့ သိုလှောင်ကန် ၁ လုံးတို့ဖြင့် သိုလှောင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကုန်ကြမ်းမှကုန်ချောထုတ်လုပ်မည့် အစီအစဉ်အနေဖြင့် အဆင့် ၅ ဆင့်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(စ)/ခ-၀၂၂/၂၀၁၉(၄၂၁)

ရက်စွဲ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Mingalar Hong Sheng Trading Company Limited တည်ထောင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Mingalar Hong Sheng Trading Company Limited မှ မြေကွက်အမှတ် ၄၆/၄၇၊ ကွင်းအမှတ်-၃၁၃-ခ၊ ဘုရားလေးကွင်း၊ ဖန်းခါးကျင်းကျေးရွာအုပ်စု၊ မုံရွာမြို့နယ်၊ မုံရွာခရိုင်၊ စစ်ကိုင်းတိုင်းဒေသကြီးရှိ မြေဧရိယာ ၄.၉၂ ဧကတွင် ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးဝင်းမြင့်နှင့် မြေငှားရမ်းသူ ဦးမောင်စိန်တို့အကြား ၂၃-၂-၂၀၁၉ ရက်စွဲဖြင့် ချုပ်ဆိုထားသော နှစ်ဦးသဘောတူမြေကွက်ငှားရမ်းခြင်း သဘောတူ စာချုပ်၊ ကုမ္ပဏီမှထွက်ရှိသော အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီများကို ဝယ်ယူမည့် ဦးထိန်ဝင်း (ဝင်းစက်သုံးဆီအရောင်းဆိုင်)နှင့် ကုမ္ပဏီတို့အကြား နှစ်ဦးသဘောတူ ဒီဇယ်ဆီ၊ ဓာတ်ဆီရောင်း ချခြင်း သဘောတူစာချုပ်၊ ကုန်ကြမ်းပစ္စည်းအနေဖြင့် ဦးချစ်ကို နှင့် ဦးခင်ရွှေတို့ တရားဝင်ပိုင်ဆိုင် သော ရေနံမြေအတွင်းရှိ လုပ်ကွက်များမှ ထွက်ရှိသော ရေနံစိမ်းများကို တစ်ပေပါလျှင် ကျပ်ငါးသောင်း ရှစ်ထောင်နှုန်းဖြင့် ဝယ်ယူမည်ဖြစ်ကြောင်း နှစ်ဦးသဘောတူ ရေနံစိမ်းရောင်းချ ခြင်း သဘောတူကတိစာချုပ်များ၊ စက်ရုံတည်ဆောက်မည့် နေရာအတွက် Layout Plan နှင့် စက်ရုံဒီဇိုင်း နမူနာပုံစံများအား ပူးတွဲတင်ပြထားပါသည်။

၃။ ကုမ္ပဏီအနေဖြင့် ကုန်ကြမ်းပစ္စည်း (ရေနံစိမ်း) များကို တစ်ရက်လျှင် ၁၅,၀၀၀ ဂါလံဝယ် ယူမည်ဖြစ်ပြီး ၃၃,၀၀၀ ဂါလံဆံ့ ဆီသိုလှောင်ကန် အကြီး ၂ လုံး၊ ၁၁,၀၀၀ ဂါလံဆံ့ ဆီသိုလှောင် ကန်အသေး ၁ လုံး၊ ၄,၅၀၀ ဂါလံဆံ့ Horizontal Device Tank ၂ လုံးတို့ဖြင့် ၅ ပေအကွာတွင် ထားရှိပြီး သိုလှောင်မည်ဖြစ်ပါသည်။ ကုန်ချောပစ္စည်း (ဓာတ်ဆီ၊ ဒီဇယ်ဆီ) များကို တစ်ရက် လျှင် ၁၂,၅၀၀ ဂါလံ ထုတ်လုပ်သွားမည်ဖြစ်ပြီး ချက်လုပ်ပြီးစီးသည့် ဒီဇယ်ဆီကို ၃၃,၀၀၀ ဂါလံဆံ့ ဆီသိုလှောင်ကန် ၂ လုံး၊ ဓာတ်ဆီကို ၁၁,၀၀၀ ဂါလံဆံ့ ဆီသိုလှောင်ကန် ၂ လုံးနှင့် ရေနံချေး ၄,၅၀၀ ဂါလံဆံ့ သိုလှောင်ကန် ၁ လုံးတို့ဖြင့် သိုလှောင်မည်ဖြစ်ပါသည်။ ကုန်ကြမ်းမှ ကုန်ချော ထုတ်လုပ်မည့် အစီအစဉ်အနေဖြင့် စုစုပေါင်း အဆင့် ၅ ဆင့်ဖြင့်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၄။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ်ဖြစ်ပြီး စုစုပေါင်းမြေ ၄.၉၂ ဧက အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ်သိန်း ၃၆၀ ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ တည်ဆောက်ရေးကာလမှာ ၆ လကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၆၅၄.၈၄၈ သန်း ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | စုစုပေါင်း ကျပ်(သန်း) |
|---|---|
| ငွေသား | ၁၀၄.၂၂၇ |
| စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၄၅၁.၂၂၁ |
| မြေ/အဆောက်အအုံတန်ဖိုး | ၉၉.၄၀၀ |
| **စုစုပေါင်း** | **၆၅၄.၈၄၈** |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၄ ဦး နှင့် ပြည်ပဝန်ထမ်း ၄ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၇၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၈။ လုပ်ငန်းမှထွက်ရှိသော ဒီဇယ်ဆီ၊ ဓာတ်ဆီများကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ရောင်းချမည့်အရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (ဂါလံ) | ဈေးနှုန်း (ကျပ်/ဂါလံ) | ရရှိမည့်ဝင်ငွေ (ကျပ်/သန်း) |
|---|---|---|---|
| ဒီဇယ်ဆီ | ၃,၄၁၂,၅၀၀ | ၃,၅၀၀.၀၀ | ၁၁,၉၄၃.၇၅ |
| ဓာတ်ဆီ | ၁,၁၃၇,၅၀၀ | ၃,၅၀၀.၀၀ | ၃,၉၈၁.၂၅ |

၉။ လုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားစာအား နောက်ဆက်တွဲ (က) ဖြင့်လည်းကောင်း၊ စစ်ကိုင်းတိုင်းဒေသကြီး အစိုးရအဖွဲ့မှလည်း စစ်ကိုင်းတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားသည့်စာအား နောက်ဆက်တွဲ (ခ) ဖြင့်လည်းကောင်း တင်ပြထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာ ဦးဝမ်လီချင်းအမည်ဖြင့် ကမ္ဘောဇဘဏ်၌ ၁၀-၇-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၁၀၉,၈၁၁,၉၆၂.၄၈ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းအား ၂၀၁၉ ခုနှစ် ဇူလိုင်လ ၂၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၂၅/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ် ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းမှ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ် များကိုလည်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ ISIC 1920 တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် Mingalar Hong Sheng Trading Company Limited မှ ရေနံစိမ်းမှ အဆင့်မြင့် ဒီဇယ်ဆီ၊ ဓာတ်ဆီ ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ